ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၂၈/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ √ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးတေဇ

(ခ) **အဘ အမည်** ဦးမြင့်ဆွေ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကမရ(နိုင်) ဝ၂၈ဝ၉ဝ

(ဃ) **နေရပ်လိပ်စာ** အမှတ်(၈၆)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Myanmar Treasure Hotel & Resort Group Company Limited ( မြန်မာ ရတနာ ဟိုတယ် နှင့် အပန်းဖြေစခန်း အုပ်စု ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** Aureum Palace Spa Resort အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့် အပန်းဖြေစခန်း တည်ဆောက်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောရှိ မြေဧရိယာ (၃၀.၁၇)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၇၂၆၀.၁၄ သန်း ( အမေရိကန်ဒေါ်လာ ၀.၉၅ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ခုနှစ်ထောင် နှစ်ရာ ခြောက်ဆယ် နှင့် တစ်သိန်းလေးသောင်းခန့် )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

၁။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန် တောရိုင်းတိရစ္ဆာန် ဘေးမဲ့တောရှိ မြေအကျယ် (၃၀.၁၇) ဧကတို့တွင် နှစ်ရှည်မြေငှားရမ်း၍ Aureum Palace Spa Resort အမည်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်နှင့် အပန်းဖြေစခန်း တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၉ /၂၀၁၄) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ **"လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့အား စီးပွားဖြစ်ရက်အဖြစ် သတ်မှတ်ရန်နှင့် ပြည်ပမှတင်သွင်းမည့် ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းပြီးနှင့် တင်သွင်းရန်ကျန်ရှိသော စာရင်းများခွဲခြား၍ ရှင်းလင်းတင်ပြရန်၊ စာရင်းများပြန်လည်တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန်"**ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှတင်သွင်းမည့် ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများအား အသေးစိတ် စာရင်းပြုစု တင်ပြလာပါသဖြင့် ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ **"အဆိုပြုလုပ်ငန်းအား ခွင့်ပြုကြောင်း၊ အမှန်တကယ် တင်သွင်းရန်လိုသည့် US$ ၀.၉၅ သန်း တန်ဖိုးရှိ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုကြောင်းနှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလအား ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ စတင်၍ သတ်မှတ်ရန်"** ဆုံးဖြတ်ခဲ့ပါသည်။

၃။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များ ကို ကျင့်သုံးလျက် Myanmar Treasure Hotel & Resort Group Company Limited (မြန်မာရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)အား နိုင်ငံတကာ အဆင့်မီဟိုတယ်နှင့် အပန်းဖြေ စခန်းဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၂၈/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၄။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)အား ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အတွက် စီးပွားဖြစ် စတင်သည့်နေ့ရက်အား ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့ရက်မှ စတင်သတ်မှတ်လိုက်သည်။

ကန့်သတ်

၅။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)အနေဖြင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစတင်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ၊ ဥပဒေပုဒ်မ ၂၀(က)နှင့်အညီ တစ်ဆက်တည်း (၅)နှစ် အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

၆။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤ အမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများအပေါ် တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နှုတ်ပယ်ခွင့်အား ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း

အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၇။ ပြည်ပမှ တင်သွင်းသော ဟိုတယ် လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၈။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြု မိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည် ဖော်ရမည်။

၉။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၁၀။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအတည်ပြုပြီးဖြစ်သောနှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ (၁၀)နှစ်သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၁၂။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့်အပန်းဖြေစခန်းအုပ်စုကုမ္ပဏီလီမိတက်)သည်ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနသို့ Land Use Premium ကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၅၀,၀၀၀ နှုန်းဖြင့် မြေ (၃၀.၁၇)ဧက အတွက် ကျပ် ၁,၅၀၈,၅၀၀ ကို အောက်ပါအတိုင်း (၃)ကြိမ်ခွဲ၍ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် MD-010613 သို့ ပေးသွင်းရမည်-

(က) ပထမ အရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ် ၄၅၂,၅၅၀ ကို သဘောတူ စာချုပ် လက်မှတ် ရေးထိုးပြီး ရက် (၃၀)အတွင်း၊

(ခ) ဒုတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ် ၄၅၂,၅၅၀ ကို သဘောတူ စာချုပ် လက်မှတ် ရေးထိုးပြီး (၆)လ အတွင်း ၊

(ဂ) တတိယ အရစ် အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀% ဖြစ်သော ကျပ် ၆၀၃,၄၀၀ ကို သဘောတူ စာချုပ် လက်မှတ် ရေးထိုးပြီး(၂၄) လအတွင်း၊

၁၃။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် နှစ်စဉ် မြေငှားရမ်းအဖြစ် မြေ(၃၀.၁၇) ဧကအတွက်တစ်ဧက တစ်နှစ်လျှင်ကျပ် ၂၆၀,၀၀၀ နှုန်းဖြင့် ကျပ် ၇၈၄၄၂၀၀(ကျပ် ခုနစ်ဆယ့် ရှစ်သိန်း လေးသောင်းလေးထောင်နှစ်ရာ တိတိ)ကိုနှစ်ဦးနှစ်ဘက် လက်မှတ် ရေးထိုးပြီး ရက်ပေါင်း (၆၀) အတွင်း ကြိုတင်၍ ပေးသွင်း ရမည်။

၁၄။ မြေငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင် သတ်မှတ်ရန်နှင့် စာချုပ် ပြန်လည် ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသ ပေါက်ဈေးနှင့် နှစ်ဘက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင် သတ်မှတ် ရမည်။

၁၅။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ မြေပြုပြင် ကာလ(၆)လ နှင့် ဟိုတယ် တည်ဆောက်ရေးကာလ(၁၈)လ၊ စုစုပေါင်း (၂၄)လအတွင်း ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ် ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၊သစ်တောဦးစီးဌာနနှင့် Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်) တို့ချုပ်ဆိုသည့် နှစ်ရှည်မြေငှားရမ်းခြင်းစာချုပ်ကိုလက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅) စောင်ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၇။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်) သည် ဟိုတယ် အဆောက်အအုံ ပြီးစီး သည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာနသို့ လျှောက်ထားရမည်။

၁၈။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူ စာချုပ် သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ် တစ်ဦးဦးအား တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်း ခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၉။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံငွေ

အဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ် ၇,၈၄၄,၂၀၀ (ကျပ် ခုနစ်ဆယ့်ရှစ်သိန်းလေးသောင်း လေးထောင်နှစ်ရာတိတိ)အား နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည် ဖြင့်ဖွင့်လှစ်ထားသောငွေစာရင်းအမှတ် MD-010613 တွင် စာချုပ်လက်မှတ် ရေးထိုးပြီး ရက်ပေါင်း (၃၀)အတွင်း ဘဏ်အာမခံထားရှိစေရမည်။

၂၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၂၁။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြ စီမံကိန်းနှင့် ကိုက်ညီစေရေးအတွက်လည်းကောင်း၊ သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာ သည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၂၂။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်ဆီးမှုများ လျော့နည်း စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း ( Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့ သို့ ပေးပို့အစီရင်ခံရမည်။

၂၃။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင် အလုပ်သမား အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီး ဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၂၄။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက် များနှင့် အမိန့်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၂၅။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်းစနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေ များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၆။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်**အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်**ပုံမှန်ပေးပို့အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၈။ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနနှင့်အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင်မည်သည့်

ခွင့်ပြုမိန့်မှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည် အထိ အရေးယူခြင်းခံရမည်။

၃၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကေ-၄ /မ-၁၄၄၃ / ၂၀၁၅ ( ၀၇၆ - ၈ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ရှမ်းပြည်နယ်အစိုးရအဖွဲ့၊တောင်ကြီးမြို့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
အတွင်းရေးမှူး၊အင်းလေးကန် ရေရှည်တည်တံ့ရေးနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေများ ထိန်းသိမ်းရေးကော်မတီ
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကျန်းမာရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
မန်နေဂျင်းဒါရိုက်တာ၊ Myanmar Treasure Hotel & Resort Group Company Limited (မြန်မာ ရတနာ ဟိုတယ်နှင့် အပန်းဖြေစခန်းအုပ်စု ကုမ္ပဏီလီမိတက်)